

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)



ခွင့်ပြုမိန့်အမှတ်၊မနသ- ၁၁၂၆/၂၀၁၆

၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါက်တာခင်မောင်လွင်

(ခ) **အဘ အမည်** ဦးတင်အောင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ရကန(နိုင်)၀၂၂၀၈

(ဃ) **နေရပ်လိပ်စာ** အမှတ် - ၂၊ ကန်သာယာ - ၃လမ်း၊ ငွေကြာယံရိပ်သာ၊ တောင်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** အောင်မြင်မှု ဆေးဝါး ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (FAME Pharmaceuticals Industry Co., Ltd.)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** သဘာဝကို အခြေခံသည့် (အပင်ကို အခြေခံသည့်) နိုင်ငံတကာအဆင့်မီ ဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (အပိုင်း ၃)၊ မြေကွက်အမှတ် ၁၉-ခ နှင့် ၂၀ ရှိ မြေ (၂.၈၅၂)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၅၄၂၅.၇၇ သန်း (စုစုပေါင်းကျပ် ငါးထောင့်လေးရာ နှစ်ဆယ့်ငါးသန်း နှင့် ခုနှစ်သိန်း ခုနှစ်သောင်းခန့်)

၁၇/၂

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
အမိန့်ကြော်ငြာစာအမှတ်၊ ၁၃ /၂၀၁၆(မနသ)
၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (အပိုင်း ၃)၊ မြေကွက်အမှတ် ၁၉-ခနှင့် ၂၀ ရှိ မြေ (၂.၈၅၂)ဧက တွင် သဘာဝကိုအခြေခံသည့်(အပင်ကိုအခြေခံသည့်) နိုင်ငံတကာအဆင့်မီဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၅-၂-၂၀၁၆) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၁၆) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) အား သဘာဝကိုအခြေခံသည့်(အပင်ကိုအခြေခံသည့်) နိုင်ငံတကာအဆင့်မီဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၁၂၆/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က)ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ဋ) အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း

အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၅။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment - EIA)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၈။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ

ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)မှ ဆေးဝါးများ စတင်ထုတ်လုပ်သည့်အခါ ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာနသို့ ဆက်သွယ်၍ ဆေးဝါးထုတ်လုပ်နေစဉ် ကောင်းမွန်သော ဆေးဝါးထုတ်လုပ်မှုကျင့်စဉ်(Good Manufacturing Practice - GMP)နှင့် ကိုက်ညီမှု ရှိ/မရှိ စစ်ဆေးခံရမည်ဖြစ်ပြီး အမျိုးသားဆေးဝါးဥပဒေဖြင့် ထုတ်ပြန်ထားသည့် ပြဋ္ဌာန်းပါ အချက်အလက်များကို လိုက်နာဆောင်ရွက်ရမည်။

၁၃။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၁၅။ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါးထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၆။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

၁၇/၂

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃/ မ-၁၁၉၆/ ၂၀၁၆(၂၆၁-၁၈)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ FAME Pharmaceuticals Industry Co., Ltd. (အောင်မြင်မှု ဆေးဝါး ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)

19.4.2018



## Fame Pharmaceuticals Industry Co., Ltd. ၏ အချက်အလက်အကျဉ်းချုပ်

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Fame Pharmaceuticals Industry Co., Ltd.<br>(အောင်မြင်မှုဆေးဝါး ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)<br>ဒေါက်တာခင်မောင်လွင်<br><br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၂ | ခွင့်ပြုမိန့်အမှတ်/ရက်စွဲ | - မနသ-၁၁၂၆/၂၀၁၆(၁၇-၂-၂၀၁၆) |
| | စီးပွားဖြစ်စတင်သည့်နေ့ | - ၂၃-၅-၂၀၁၆ |
| ၃ | လုပ်ငန်းအမျိုးအစား | - သဘာဝကို အခြေခံသည့် (အပင်ကိုအခြေခံသည့်) နိုင်ငံတကာအဆင့်မီ ဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ်-၁၉-ခ နှင့် ၂၀၊ မြေတိုင်းရပ်ကွက်အမှတ် (အပိုင်း-၃) စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါက်တာခင်မောင်လွင် |
| | မြေအကျယ်အဝန်း | - ၂.၈၅၂ ဧက |
| ၅ | ရင်းနှီးမြှုပ်နှံမှုပမာဏ | - ကျပ် ၅၄၂၅.၇၇ သန်း |
| ၆ | ရောင်းချမည့်စနစ် | - ၆၀% ပြည်တွင်းရောင်း<br>- ၄၀% ပြည်ပပို့ |
| ၇ | ခန့်ထားပြီး ပြည်တွင်း ဝန်ထမ်းအင်အား | - ၃၇၇ ဦး |
| ၈ | ထုတ်လုပ်မည့် ဆေးအမျိုးအစား | - ပူးတွဲတင်ပြထားပါသည်။ |

# FAME Pharmaceuticals မှ တိုးချဲ့ထုတ်လုပ်မည့် သဘာဝကိုအခြေခံသည့် နိုင်ငံတကာအဆင့်မီဆေးဝါးများ၏ လျာထားချက်

FAME Pharmaceuticals Industry Co., Ltd

Product List for New Production

| စဉ် | ဆေးအမည် | ဆေးအမျိုးအစား | ထုပ်ပိုးပုံ |
|---|---|---|---|
| 1 | Glucose | ဂလူးကိုစ့်သကြား | 50sacets/box |
| 2 | Omega 3 | ငါးကြီးဆီ | 60 cap/bottle |
| 3 | DHEA | သဘာဝမှရသော အကြိုဟော်မုန်း အားဖြည့်ဆေး | 60 cap/bottle |
| 4 | Organic iron | အော်ဂဲနစ်သံဓါတ် အားဆေး | 60 cap/bottle |
| 5 | Organic calcium | အော်ဂဲနစ်အရိုး အားဆေး | 60 cap/bottle |
| 6 | Organic zinc | အော်ဂဲနစ်ဇင့်သတ္တုဓါတ် အားဖြည့်ဆေး | 60 cap/bottle |
| 7 | Organic selenium | အော်ဂဲနစ်ဆီလီနီယမ်သတ္တုဓါတ် အားဖြည့်ဆေး | 60 cap/bottle |
| 8 | Organic chromium | အော်ဂဲနစ်ခရိုမီယမ်သတ္တုဓါတ် အားဖြည့်ဆေး | 60 cap/bottle |
| 9 | Organic potassium | အော်ဂဲနစ်ပိုတက်စီယမ်သတ္တုဓါတ် အားဖြည့်ဆေး | 60 cap/bottle |
| 10 | Organic magnesium | အော်ဂဲနစ်မက်ဂနီစီယမ်သတ္တုဓါတ် အားဖြည့်ဆေး | 60 cap/bottle |
| 11 | Bromelain | အသီးမှရသော အစာကြေအင်ဇိုင်း | 60 cap/bottle |
| 12 | Vitamin E | သဘာဝဗီတာမင်အီး အားဖြည့်ဆေး | 60 cap/bottle |
| 13 | Vitamin B1 | သဘာဝဗီတာမင်ဘီဝမ်း အားဖြည့်ဆေး | 60 cap/bottle |
| 14 | Vitamin B2 | သဘာဝဗီတာမင်ဘီတူး အားဖြည့်ဆေး | 60 cap/bottle |
| 15 | Vitamin B6 | သဘာဝဗီတာမင်ဘီစစ် အားဖြည့်ဆေး | 60 cap/bottle |
| 16 | Vitamin B12 | သဘာဝဗီတာမင်ဘီတွဲ အားဖြည့်ဆေး | 60 cap/bottle |
| 17 | Vitamin B complex | သဘာဝဗီတာမင်ဘီအစုံ အားဖြည့်ဆေး | 60 cap/bottle |
| 18 | Folic acid | သွေးအားကောင်းဆေး | 60 cap/bottle |
| 19 | Vitamin D | သဘာဝဗီတာမင်ဒီ အားဖြည့်ဆေး | 60 cap/bottle |
| 20 | Vitamin K | သဘာဝဗီတာမင်ကေ အားဖြည့်ဆေး | 60 cap/bottle |
| 21 | Niacin | သဘာဝဗီတာမင်နိုက်ရာစင် အားဖြည့်ဆေး | 60 cap/bottle |
| 22 | Beta sitosterol | ဆီးကျိတ် အရောင်ကျဆေး | 60 cap/bottle |
| 23 | Curcumin | သဘာဝ အရောင်ကျဆေး | 60 cap/bottle |
| 24 | Evening primose oil | အမျိုးသမီးသားအိမ် အားဆေး | 60 cap/bottle |
| 25 | Lysine | လိုင်းစင်းဓါတ် အားဆေး | 60 cap/bottle |
| 26 | Lecithins | သဘာဝ အဆီကျဆေး | 60 cap/bottle |
| 27 | Taurine | တော်ရင်းဓါတ် အားဆေး | 60 cap/bottle |
| 28 | Melatonin | သဘာဝအိပ်ဆေး | 60 cap/bottle |
| 29 | Digestive enzyme | အစာကြေ အင်ဇိုင်း | 60 cap/bottle |
| 30 | SOD enzyme | အင်ဇိုင်း ဖြည့်စွက်ဆေး | 60 cap/bottle |
| 31 | Alpha lipoic acid | အင်တီအောက်စီဒင့် ဖြည့်စွက်ဆေး | 60 cap/bottle |

မှတ်ချက်။ ။ အထက်ပါဆေးများသည် ဆေးတစ်မျိုးချင်းစီသော်လည်းကောင်း၊ ဆေးတစ်မျိုးထက်ပို၍ နှစ်မျိုးသုံးမျိုးပေါင်းစပ်၍သော်လည်ကောင်း ထုတ်လုပ်ရန်လျာထားပါသည်။

| No | ITEM | MYANMAR NAME | DTM reg No. | Date of Revalidation | EXP. DATE |
|---|---|---|---|---|---|
| | **Capsules** | | | | |
| 1 | Beepollen | ပျားဝတ်မှုန်ဆေးတောင့် | 0213 Y 010182 | 10.2.10 | 10.2.13 |
| 2 | Chitobit | သဘာဝအဆီကျပိန်ဆေး | 1112 YR 008204 | 17.11.09 | 17.11.12 |
| 3 | Diabe- Herb | ဆီးချိုကျဆေးတောင့် | 0711 YR 006219 | 17.7.08 | 17.7.11 |
| 4 | Diarstat | ဝမ်းလျှောဝမ်းပျက်သောက်ဆေး | 0213 YR 007009 | 24.2.10 | 24.2.13 |
| 5 | Dysenzi | ရာတန်ဝမ်းကိုက်ပျောက်ဆေး | 0711 YR 006140 | 17.7.08 | 17.7.11 |
| 6 | Ganocan | လင်ဇီဆေးတောင့် | 0213 Y 010180 | 10.2.10 | 10.2.13 |
| 7 | Hepa-B | အသည်းအားဆေး | 0512 YR 006751 | 19.5.09 | 19.5.12 |
| 8 | Hepatec | အသည်းအားဆေး | 0612 YR 006750 | 19.6.09 | 19.6.12 |
| 9 | Neurogin | အာရုံကြောအားဆေး | 0711 YR 006003 | 17.7.08 | 17.7.11 |
| 10 | Nonicap | ရဲယိုဆေးတောင့် | 0213 Y 010181 | 10.2.10 | 10.2.13 |
| 11 | RoyalJelly | ပျားနို့ဆေးတောင့် | 1012 YR 004709 | 22.10.09 | 22.10.12 |
| 12 | Spiru- Emblica | သဘာဝအားဆေး | 0711 YR 006323 | 12.7.08 | 12.7.11 |
| 13 | Tinoflam | ဆင်တုံးမနွယ်အရောင်ကျဆေး | 0312 YR 006646 | 21.3.09 | 21.3.12 |
| 14 | Urocrush | ဆီးကျောက်ပျော်ဆေး | 0711 YR 006425 | 12.7.08 | 12.7.11 |
| 15 | Gynu-Herb | ပျားမြီးရွက်ဆေး | 0811 Y 009054 | 25.8.08 | 25.8.11 |
| 16 | PollenForte | ပျားဝတ်မှုန်ဆေး | 0711 YR 003873 | 17.7.08 | 17.7.11 |
| 17 | NoniForte | ရဲယိုဆေး | 0711 YR 006258 | 17.7.08 | 17.7.11 |
| 18 | Alfalfa Forte | အယ်လ်ဖာဖာဆေး | 0811 Y 009055 | 25.8.08 | 25.8.11 |
| 19 | Gentlemax | ပေါက်နွယ်ဥဆေး | 0213 Y 010183 | 10.2.10 | 10.2.13 |
| 20 | Gentleforte | အမျိုးသားခွန်အားတိုးဆေး | 0213 Y 010358 | 10.2.10 | 10.2.13 |
| 21 | Wheatgrasas | ဂျုံမြက်နုဆေး | 1011 Y 009442 | 3.10.08 | 3.10.11 |
| 22 | Fame Chlorella | ရေညှိစိမ်း | 0713 YR 007177 | 30.7.10 | 30.7.13 |
| 23 | Immugin | ဂျင်ဆင်းဆေးတောင့် | 1013 YR 005824 | 25.10.10 | 25.10.13 |
| 24 | LingzhiForte | လင်ဇီဆေး | 1013 YR 005892 | 25.10.10 | 25.10.13 |
| 25 | Oncotec | မြစ်ပွားနာဆေး | 0114 Y 010721 | 28.1.11 | 28.1.14 |
| 26 | Skeletec | အရိုးဆစ်သန်မာဆေး | 0114 Y 010722 | 28.1.11 | 28.1.14 |
| 27 | Alfalfa | အယ်လ်ဖာဖာအားဆေး | 0114 Y 010850 | 28.1.11 | 28.1.14 |
| | | | | | |

| No | ITEM | MYANMAR NAME | DTM reg No. | Date of Revalidation | EXP. DATE |
|---|---|---|---|---|---|
| | **Tablets/Caplets** | | | | |
| 1 | Appletec | ပန်းသီးဆေး | 1112 YR 008206 | 17.11.09 | 17.11.12 |
| 2 | Biocrush | တပင်တိုင်မြနန်ဆေး | 1011 YR 007781 | 20.10.08 | 20.10.11 |
| 3 | Completec | ဆယ်ပင်အားဆေး | TMR007554 (1213 | 17.6.11 | 17.6.14 |
| 4 | Hepaforte | ဆေးကနစို | 0811 YR 007662 | 5.8.08 | 5.8.11 |
| 5 | Ladymax | လှပျိုမြူအားဆေး | 0613 YR 008505 | 7.6.10 | 7.6.13 |
| 6 | Milk Thistle | အသည်းဆေး | 0713 YR 007176 | 30.7.10 | 30.7.13 |
| 7 | Nature-C | သဘာဝ–စီ | 1011 YR 007782 | 20.10.08 | 20.10.11 |
| 8 | Nemogin | တမာအားဖြည့်ဆေး | 1112 YR 008203 | 17.11.09 | 17.11.12 |
| 9 | Normosin | သွေးတိုးကျဆေး | 1211 YR 007406 | 18.12.08 | 18.12.11 |
| 10 | Phototec | မျက်စိဆေး | 1112 YR 008234 | 17.11.09 | 17.11.12 |
| 11 | Echinacold | အအေးမိတုပ်ကွေးရောဂါကုဆေး | TMR 007347(1213) | 13.12.10 | 13.12.13 |
| 12 | Neurodopa | ကိုယ်စိတ်သန့်စွမ်းဆေး | 0114 Y 010851 | 28.1.11 | 28.1.14 |
| 13 | Immunoplex ET | သဘာဝကိုယ်ခံစွမ်းအားတိုးဆေး | TMR007342(1213) | 13.12.10 | 13.12.13 |
| 14 | Motulax | ဝမ်းပျော့ဆေး | TMR007350(1213) | 13.12.10 | 13.12.13 |
| 15 | Rejuvir | ပျိုမေအားဆေး | 1211 YR 007907 | 28.12.08 | 28.12.11 |
| 16 | Spiru-garlic | အဆီကျရေညှိဆေးဆေး | 0711 YR 006127 | 17.7.08 | 17.7.11 |
| 17 | Saw palmetto | ဆီးကျိတ်ရောဂါဆေး | TMR 007342(1213) | 13.12.10 | 13.12.13 |
| 18 | Soyamin | ပရိတင်းအားဖြည့်ဆေး | 0613 YR 008448 | 7.6.10 | 7.6.13 |
| 19 | Tomatec | ခရမ်းချဉ်သီးဆေး | 1112 YR 008207 | 17.11.09 | 17.11.12 |
| 20 | Wound healer | အနာကျက်သောက်ဆေး | 0613 YR 008447 | 7.6.10 | 7.6.13 |
| 2 | Salixin | မိုးမခဆေး | 0811 Y 009067 | 25.8 .08 | 25.8.11 |
| 22 | Starnise | နာနတ်ပွင့်ဆေး | 0811 Y 009069 | 14.7.08 | 14.7.11 |
| 23 | Cholecrush | သည်းခြေကျောက်ပျော်ဆေး | 0813 Y 010682 | 26.8.10 | 26.8.13 |
| | | | | | |
| | | | | | |

| No | ITEM | MYANMAR NAME | DTM reg No. | Date of Revalidation | EXP. DATE |
|---|---|---|---|---|---|
| | **Consumer** | | | | |
| 1 | Aloeheal | ခြေဖနောင့်ကွဲအက် ပျောက်ဆေး | 0313 YR 008394 | 26.3.10 | 26.3.13 |
| 2 | Clove Mouth Wash | လေးညှင်းသွားကိုက်ပျောက်ဆေးရည် | 0112 YR 006520 | 2.1.09 | 2.1.12 |
| 3 | Neem Mouth Wash | တမာခံတွင်းသန့်ဆေးရည် | 0112 YR 006521 | 2.1.09 | 2.1.12 |
| 4 | Ganogesic Balm | လင်ဇီးအကိုက်ခဲပျောက်လိမ်းဆေး | 0711 YR 006291 | 12.7.08 | 12.7.11 |
| 5 | Herbicough | ချောင်းဆိုးပျောက်ဆေးရည် | 0312 YR 006643 | 21.3.09 | 21.3.12 |
| 6 | Herbigesic | ဒဏ်ကြေအကြောပြေအရောင်ကျလိမ်းဆေး | 0112 YR 006493 | 2.1.09 | 2.1.12 |
| 7 | Natural Healer | ရှားစောင်းလက်ပပ်အနာကျက်ဆေးရည် | 0711 YR 006470 | 2.1.09 | 2.1.12 |
| 8 | Neem skin cream | တမာအရေပြားလိမ်းဆေး | 0711 YR 006292 | 12.7.08 | 12.7.11 |
| 9 | Nemoderm | ပိုးသန့်စင်လိမ်းဆေး | 1113 YR 007281 | 30.11..10 | 30.11..13 |
| 10 | Propolis Honey | အနာကျက်ပျားကော်ဆေးရည် | 0513 YR 005511 | 31.3.10 | 31.3.13 |
| 11 | Immunoplex | သဘာဝကိုယ်ခံစွမ်းအားတိုးဆေး | 0312 YR 006620 | 21.3.09 | 21.3.12 |

## Fame Pharmaceuticals Industry Co., Ltd. ၏ အချက်အလက်အကျဉ်းချုပ်

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Fame Pharmaceuticals Industry Co., Ltd.<br>(အောင်မြင်မှုဆေးဝါး ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)<br>ဒေါက်တာခင်မောင်လွင်<br><br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၂ | ယာယီခွင့်ပြုမိန့်အမှတ် | - မနသ-၀၀၂/၂၀၁၁(ယာယီ)(၂၉-၁၂-၂၀၁၁) |
| ၃ | လုပ်ငန်းအမျိုးအစား | - သဘာဝကို အခြေခံသည့် (အပင်ကိုအခြေခံသည့်) နိုင်ငံတကာအဆင့်မီ ဆေးဝါးထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ်-၁၉-ခ နှင့် ၂၀၊ မြေတိုင်းရပ်ကွက်အမှတ် (အပိုင်း-၃) စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါက်တာခင်မောင်လွင် |
| | မြေအကျယ်အဝန်း | - ၂.၈၅၂ ဧက |
| ၅ | ရင်းနှီးမြှုပ်နှံမှုပမာဏ | - ကျပ် ၅၄၂၅.၇၇ သန်း |
| ၆ | အဆိုပြုချက်ပါတည်ဆောက်ရေးကာလ | - ၂နှစ် (၂၉-၁၂-၂၀၁၁ မှ ၂၈-၁၂-၂၀၁၃ ထိ) |
| ၇ | ပထမအကြိမ် တည်ဆောက်ရေး ကာလ သက်တမ်းတိုး | - ၁နှစ် (၂၉-၁၂-၂၀၁၃မှ ၂၈-၁၂-၂၀၁၄ ထိ) |
| | ဒုတိယအကြိမ် တည်ဆောက်ရေး ကာလ သက်တမ်းတိုး | - ၁နှစ် (၂၉-၁၂-၂၀၁၄မှ ၂၈-၁၂-၂၀၁၅ ထိ) |
| | ရောင်းချမည့်စနစ် | - ၆၀% ပြည်တွင်းရောင်း<br>- ၄၀% ပြည်ပပို့ |
| ၈ | ခန့်ထားပြီး ပြည်တွင်း ဝန်ထမ်းအင်အား | - ၃၆၃ ဦး (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၄၀၀,၀၀၀) |
| ၉ | တိုးချဲ့ထုတ်လုပ်မည့် ဆေး(၃၁)မျိုး | - ပူးတွဲတင်ပြထားပါသည်။ |




# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ယာယီခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၀၂/၂၀၁၁(ယာယီ)။ ၂၀၁၁ ခုနှစ်၊ ဒီဇင်ဘာလ ၂၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ၁၀ အရ ဤခွင့်ပြုမိန့်ကို ယာယီ ထုတ်ပေးလိုက်သည်။

| | | | |
|---|---|---|---|
| (က) | ရင်းနှီးမြှုပ်နှံသူအမည် | | ဒေါက်တာခင်မောင်လွင် |
| (ခ) | အဘအမည် | | ဦးတင်အောင် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | | ၁၂/ရကန(နိုင်)၀၂၂၀၀၈ |
| (ဃ) | နေရပ်လိပ်စာ | | အမှတ် (၂) ၊ ကန်သာယာ (၃) လမ်း ၊ ငွေကြာယံရိပ်သာ ၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ။ |
| (င) | ဖွဲ့စည်းထားသည့်(သို့မဟုတ်) ဖွဲ့စည်းမည့်အဖွဲ့အစည်း | | အောင်မြင်မှုဆေးဝါးထုတ်လုပ်ရေးကုမ္ပဏီလီမိတက် (FAME Pharmaceuticals Industry Co., Ltd.) |
| (စ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်း အမျိုးအစား | | သဘာ၀ကို အခြေခံသည့် ( အပင်ကို အခြေခံသည့် ) နိုင်ငံတကာ အဆင့်မီ ဆေးဝါးများ ထုတ်လုပ်ခြင်းလုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ် ဒေသ(များ) | | မြေကွက် အမှတ် ( ၁၉-ခ ၊ ၂၀ ) ၊ မြေတိုင်းရပ်ကွက်အမှတ် (အပိုင်း-၃)၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |
| (ဇ) | မတည်ရင်းနှီးငွေပမာဏ(ကျပ်) | | ကျပ် ၅၄၂၅.၇၇ (သန်း) ( စုစုပေါင်း ကျပ်ငါးထောင့် လေးရာ နှစ်ဆယ့် ငါးသန်း ခုနစ်သိန်း ၊ ခုနစ်သောင်းခန့်) |

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မှတ်ချက်

- ရင်းနှီးမြှုပ်နှံသူသည် ပူးတွဲပါ ကတိ၀န်ခံချက် နှင့်အညီ လုပ်ငန်းများ ဆောင်ရွက်ရန်ဖြစ်ပြီး သတ်မှတ် စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင် ဖြစ်စေ၊ သတ်မှတ်ကာလ အတွင်း ပြီးမြောက် အောင် အကောင်အထည်ဖော်နိုင်ခြင်း မရှိလျှင်ဖြစ်စေ ဤယာယီခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်မည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက- ၃/မ-၁၁၉၆/၂၀၁၆(၂၁၀ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **FAME Pharmaceuticals Industry Company Limited မှ သဘာဝကို အခြေခံသည့် (အပင်ကိုအခြေခံသည့်) နိုင်ငံတကာအဆင့်မီ ဆေးဝါးများ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီးစီးကြောင်း တင်ပြလာပါသဖြင့် စက်ရုံအား ကွင်းဆင်းစစ်ဆေးသည့် အစီရင်ခံစာနှင့်အတူ ခွင့်ပြုမိန့်(မူရင်း)ထုတ်ပေးခွင့် ပြုပါရန် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ယာယီခွင့်ပြုမိန့် ၀၀၂/၂၀၁၁(ယာယီ)(၂၉-၁၂-၂၀၁၁) ဖြင့် ဆောင်ရွက်လျက်ရှိသော FAME Pharmaceuticals Industry Company Limited မှ သဘာဝကိုအခြေခံသည့် (အပင်ကိုအခြေခံသည့်) နိုင်ငံတကာအဆင့်မီဆေးဝါးများ ထုတ်လုပ်သည့် စက်ရုံ၏ တည်ဆောက်ပြီးစီးကြောင်း တင်ပြလာပါသဖြင့် ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနခွဲ(၂)မှ ညွှန်ကြားရေးမှူး ဒေါ်စန်းစန်းမြင့် ဦးဆောင်၍ မြန်မာ့ဆေးဝါး လုပ်ငန်း၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၊ အဆောက်အဦဦးစီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ပြည်တွင်းအခွန်များဦးစီးဌာနနှင့် အလုပ်သမားညွှန်ကြားမှုဦးစီးဌာနတို့မှ အဖွဲ့ဝင်များ ပါဝင်သည့် အဖွဲ့သည် ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ ၂၈ရက်နေ့၌ လုပ်ငန်းတည်ရှိရာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(အပိုင်း-၃)၊ မြေကွက် အမှတ်(၁၉-ခနှင့်၂၀)သို့ သွားရောက်၍ စက်ရုံ တည်ဆောက်ပြီးစီးမှု အခြေအနေကို ကွင်းဆင်း စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။ ကွင်းဆင်းစစ်ဆေးမှု ပြုလုပ်ခဲ့ပြီး စစ်ဆေးတွေ့ရှိချက် အစီရင်ခံစာ ကို နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြအပ်ပါသည်။

**စစ်ဆေးရေးအဖွဲ့၏ စစ်ဆေးတွေ့ရှိချက်များ**

၂။ စက်ရုံအား ကွင်းဆင်းစစ်ဆေးရာတွင် အောက်ပါအချက်များကို စိစစ်တွေ့ရှိရပါသည်-

(က) စက်ရုံအဆောက်အဦသည် RC (၆)ထပ် အဆောက်အဦ တစ်လုံးဆောက်လုပ်ထားပြီး၊ သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ တည်ဆောက်ထားကြောင်း တွေ့ရှိရပါသည်။ အဆောက်အဦမှာ ၁၀၀% တည်ဆောက်ပြီးစီးပြီး လုပ်ငန်းများ ဆောင်ရွက်လျက် ရှိပါသည်။

(ခ) ပြည်တွင်းဝန်ထမ်းစုစုပေါင်း (၃၆၃)ဦး ခန့်ထားပြီး ကျား(၁၄၇)ဦး၊ မ(၂၁၆)ဦး ရှိပါသည်။ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး၊ အမြင့်ဆုံး

ကန့်သတ်

ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၄၀၀,၀၀၀ ဖြစ်ကြောင်း တွေ့ရှိရပါသည်။ နိုင်ငံခြားသား ဝန်ထမ်း(၁)ဦးခန့်ထားပြီး ၎င်းမှာ Nippon Foundation မှ Volunteer Technical Advisor ဖြစ်ပါသည်။

(ဂ) စက်ရုံ၏ ဆေးဝါးထုတ်လုပ်ရေး အခန်းများတွင် ဝန်ထမ်း(၂)ဦးသာ လုပ်ကိုင်ပြီး လေဝင်လေထွက်ကောင်းမွန်မှုရှိခြင်း၊ အလင်းရောင်လုံလောက်မှုရှိခြင်း တို့ကြောင့် လုပ်ငန်းခွင် သက်သာချောင်ချိမှုရှိသည်ကို တွေ့ရှိရပါသည်။

(ဃ) ဝန်ထမ်းများအား စားသောက်ခန်းမဖွင့်လှစ်ပေးထားပြီး ထမင်းစားရန်၊ နားနေရန် ဆောင်ရွက်ထားပြီး ကြို/ပို့ ဖယ်ရီများလည်း စီစဉ်ပေးထားပါသည်။

(င) ကျန်းမာရေးစောင့်ရှောက်မှုနှင့် ပတ်သက်၍ စက်ရုံအတွင်း၌ ဆေးခန်းဖွင့်လှစ်ထားရှိကာ အချိန်ပြည့်ဆရာဝန် တစ်ဦးခန့်အပ်၍ ကျန်းမာရေးအတွက် စီစဉ်ဆောင်ရွက်ထားပါသည်။ အလုပ်ဝင်စဉ်ကာလမှစပြီး ကျန်းမာရေးစစ်ဆေးပေးခြင်း၊ နှစ်စဉ်ဆေးစစ်ပေးခြင်း၊ နာမကျန်းဖြစ်ပါက အခမဲ့ဆေးကုသပေးခြင်း၊ အရေးပေါ် အခြေအနေများတွင် အလုပ်သမားဆေးရုံ၊ ပန်းလှိုင်ဆေးရုံနှင့် OSC ဆေးရုံတို့ဖြင့် ချိတ်ဆက်ဆောင်ရွက်ပေးလျက်ရှိပါသည်။ လှိုင်သာယာမြို့နယ်ဆေးရုံနှင့်ပူးပေါင်း၍ ကာကွယ်ဆေးများ ထိုးပေးခြင်း၊ မြန်မာနိုင်ငံသွားနှင့်ခံတွင်း ဆရာဝန်များအသင်းနှင့် ပူးပေါင်း၍ သွားကျန်းမာရေးစစ်ဆေးပေးခြင်းများ ကိုလည်း ဆောင်ရွက်ပေးလျက်ရှိပါသည်။ ထို့အပြင် စက်ရုံရှိအလုပ်သမားများအတွက် လူမှုဖူလုံရေးထည့်ဝင်ကြေးများ ထည့်ဝင်ပြီး ဆောင်ရွက်လျက်ရှိပါသည်။

(စ) စက်ရုံတွင် လုပ်ငန်းခွင်ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် ကျန်းမာရေးဆိုင်ရာ မူဝါဒစနစ်ကို ချမှတ်ဆောင်ရွက်လျက်ရှိခြင်း၊ စက်ရုံမှ ဝန်ထမ်းများအား လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးဆိုင်ရာ သင်တန်းများ ပို့ချပေးခြင်း၊ လမ်းညွှန်ဆောင်ရွက်ခြင်း၊ လိုအပ်သော ကိုယ်ခန္ဓာကာကွယ်ရေးသုံး ပစ္စည်းများအား ဖြည့်တင်းပေးခြင်းတို့ဆောင်ရွက်ပေးလျက်ရှိပြီး စက်ရုံသည် ၂၀၁၆ ခုနှစ်၊ အာဆီယံ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် ကျန်းမာရေး ထူးခြားစွမ်းဆောင်ဆု (ASEAN OSH NET Excellence Award 2016) အား ရရှိထားသော စက်ရုံ ဖြစ်ပါသည်။

(ဆ) ကျွမ်းကျင်မှုသင်တန်းများ ဖွင့်လှစ်ဆောင်ရွက်မှု အခြေအနေနှင့် ပတ်သက်၍ စက်ရုံမှ ဝန်ထမ်း(၂၈)ဦးအား ဂျပန်နိုင်ငံ၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံ၊ မလေးရှားနိုင်ငံ၊ ထိုင်းနိုင်ငံ၊ ကိုရီးယားသမ္မတနိုင်ငံ၊ ဖိလစ်ပိုင်နိုင်ငံ၊ စင်္ကာပူသမ္မတနိုင်ငံများ သို့ စေလွှတ်ပေးခဲ့ပြီး၊ ပြည်တွင်းသင်တန်းများကိုလည်း လစဉ်ဖွင့်လှစ်ပို့ချ ပေးလျက်ရှိပါသည်။ ASEAN မှ ကျင်းပသည့် ကျန်းမာရေး စောင့်ရှောက်မှုဆိုင်ရာ အလုပ်ရုံ ဆွေးနွေးပွဲများသို့ တက်ရောက်ရပါကြောင်း သိရှိရပါသည်။

ကန့်သတ်

